ကန့်သတ်

Betagro (Myanmar) Company Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍
လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း
တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်း | | ၄-၁၁-၂၀၁၉ | |
| | သက်ဆိုင်ရာ ဝန်ကြီးဌာနများသို့ သဘောထား တောင်းခံခြင်း<br>- စိုက်ပျိုးရေးမွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန | ၁၈-၁၂-၂၀၁၉ | ၈-၁-၂၀၂၀ | |
| | - စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စက်မှုဝန်ကြီးဌာနသို့ သဘောထား တောင်းခြင်း | ၅-၁၁-၂၀၁၉ | ၂၀-၁၁-၂၀၁၉ | |
| | - ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန(OSS) သို့ သဘောထား တောင်းခြင်း | ၄-၁၁-၂၀၁၉ | ၁၉-၁၁-၂၀၁၉ | |
| ၂ | အဆိုပြုလျှောက်ထားလွှာ ပြင်ဆင်တင်ပြ လာခြင်း | | ၂-၁၂-၂၀၁၉ | ပတ်ဝန်းကျင် သဘောထားအရ EIA , EMP ဆောင်ရွက်ရမည်ဖြစ်၍ အဆိုပြုလွှာ ပြင်ဆင် တင်ပြခြင်းဖြစ်ပါသည်။ |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၄၂/၂၀၁၉ (၉-၁၂-၂၀၁၉) | | |
| ၄ | အဆိုပြုချက်အားလက်ခံကြောင်း ပြန်ကြားခြင်း | ၁၁-၁၂-၂၀၁၉ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေးဆုံးဖြတ်ချက်အရ ပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၁၇-၁၂-၂၀၁၉ | | |
| ၆ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေးဆုံးဖြတ်ချက်အရ ကုမ္ပဏီမှ ပြင်ဆင် တင်ပြခြင်း | | ၈-၁-၂၀၂၀ | |
| ၇ | အဆိုပြုချက်အား ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၂/၂၀၂၀ ၂၄-၁-၂၀၂၀ | | |
| | စုစုပေါင်းကြာမြင့်ရက် | ၃၅ ရက် | | |

ကန့်သတ်

# အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် Betagro (Myanmar) Company Limited

လုပ်ငန်းအမျိုးအစား တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း

PATအကြိမ်/နေ့စွဲ ၄၂/၂၀၁၉ (၉-၁၂-၂၀၁၉)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု<br>ပြီး ✓<br>မပြီး X | မှတ်ချက် |
|---|---|---|---|
| ၁ | အခွန်ထမ်းဖြစ်ရန်အတွက် အလယ်အလတ် အခွန်ထမ်းများ ဆိုင်ရာအခွန်ရုံး (MTO-2) တွင် မှတ်ပုံတင်ရန်။ | ✓ | |
| ၂ | တင်သွင်းမည့် စက်ပစ္စည်းများ၏ HS Code များ ဖော်ပြရန်။ | ✓ | |
| ၃ | စက်ပစ္စည်းစာရင်းများကို ပြည်တွင်း/ ပြည်ပခွဲခြား ဖော်ပြပေးရန်နှင့် နောက်ဆက်တွဲ ဇယားများကို တူညီစွာဖော်ပြပေးရန်။ | ✓ | |
| ၄ | လျှပ်စစ်ဓာတ်အား သုံးစွဲမှုကို Single Line Diagram ဖြင့် ဖော်ပြရန်။ | ✓ | |
| ၅ | မြေငှားစာချုပ် (မူကြမ်း)တွင် Myanmar Arbitration Law 2016 ဟု ပြင်ဆင်ပေးရန်။ | ✓ | |

အကြောင်းအရာ။ ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Betagro (Myanmar) Company Limited မှ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Betagro (Myanmar) Company Limited |
| | ရင်းနှီးမြှုပ်နှံသူ | - Mr. Vasit Taepaisitphongse (Thai) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Betagro Public Co., ltd. (Thailand) ၈၀ %<br>- Shwe Me Co., Ltd. (Myanmar) ၂၀ % |
| | လုပ်ငန်းအမျိုးအစား | - တိရစ္ဆာန်အစားအစာထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်- ၁၀၁၊ ၁၀၂၊ ၁၀၃၊ ၁၀၄၊ ၁၇၉၊ မြေတိုင်းရပ်ကွက်မှတ်- သီလဝါစက်မှုဇုန်၊ သန်လျင်-ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဦးထွန်းလွင် နှင့် ဦးနိုင်မိုး |
| | မြေအမျိုးအစား | - စက်မှုဇုန်မြေ |
| | မြေအကျယ်အဝန်း | - စုစုပေါင်း မြေ ၁၁.၂၀၁ ဧက |
| ၄။ | နှစ်စဉ် မြေငှားရမ်းခ | - တစ်နှစ် တစ်ဧကလျှင် အမေရိကန်ဒေါ်လာ ၂၇,၀၄၇.၁၄ |
| | မြေငှားရမ်း အသုံးပြုခွင့်သက်တမ်း | - ကနဦး ၅၀ နှစ် နှင့် ၁၀ နှစ် ၂ ကြိမ်သက်တမ်းတိုး |
| ၅။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ၅၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ်သက်တမ်းတိုး |
| | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား | - US$ ၁၀.၈၀၀ သန်း(ချေးငွေ US$ ၅.၀၁၄၅သန်း အပါအဝင်) |

| ထည့်ဝင်သည့် အမျိုးအစား | ပြည်ပ | | ပြည်တွင်း | | စုစုပေါင်း (US$/ သန်း) |
|---|---|---|---|---|---|
| | ထည့်ဝင်ငွေ (US$/သန်း) | ချေးငွေ (US$/သန်း) | ထည့်ဝင်ငွေ (US$/သန်း) | ချေးငွေ (US$/သန်း) | |
| ငွေပမာဏ | ၀.၇၇၁၀ | - | - | - | ၀.၇၇၁၀ |
| စက်ပစ္စည်းကိရိယာများ | ၁.၉၁၉၅ | ၁.၉၁၉၅ | ၀.၂၂၅၀ | ၀.၂၂၅၀ | ၄.၂၈၉၀ |
| အဆောက်အဦဆောက်လုပ်မှုကုန်ကျစရိတ် | ၁.၁၁၂၉ | ၁.၂၆၇၁ | ၀.၈၁၇၁ | ၀.၆၆၂၉ | ၃.၈၆၀၀ |
| အခြား | ၀.၈၂၅၀ | ၀.၈၂၅၀ | ၀.၁၁၅၀ | ၀.၁၁၅၀ | ၁.၈၈၀၀ |
| စုစုပေါင်း | ၄.၆၂၈၄ | ၄.၀၁၁၆ | ၁.၁၅၇၁ | ၁.၀၀၂၉ | ၁၀.၈၀၀၀ |

<table>
<tr><td>၇။</td><td>ဝန်ထမ်းအင်အား<br><br>ပြည်တွင်း<br><br>ပြည်ပ</td><td>- ၁၈၅ ဦး<br>- ၁၇၂ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်၂၇၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာကျပ် ၆၉၀,၀၀၀ ဖြစ်ပါသည်။)<br>- ၁၃ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၁,၈၅၀,၀၀၀ ဖြစ်ပါသည်။)</td></tr>
<tr><td>၈။</td><td>ရောင်းချမည့်စနစ်<br><br>နှစ်စဉ်ထုတ်လုပ်မှု(ပုံမှန်နှစ်)</td><td>- ပြည်တွင်း ၁၀၀ %<br><br><table><tr><td>စဉ်</td><td>အမျိုးအစား</td><td>အရေ အတွက် (Tons)</td><td>ရောင်းချမည့် ဈေးနှုန်း (ကျပ်/ Ton)</td></tr><tr><td>(က)</td><td>Pig Feed</td><td>၃,၀၀၀</td><td>၆၄၅,၀၀၀</td></tr><tr><td>(ခ)</td><td>Layer Feed</td><td>၂,၀၀၀</td><td>၅၂၅,၀၀၀</td></tr><tr><td>(ဂ)</td><td>Broiler Feed</td><td>၆,၆၆၇</td><td>၆၃၀,၀၀၀</td></tr></table></td></tr>
<tr><td>၉။</td><td>အခြားတင်ပြချက်</td><td>- မြေအထောက်အထားအဖြစ် Betagro (Myanmar) Co., Ltd. မှ မြေကွက်(၅)ကွက်အား ငှားရမ်းမည်ဖြစ်ရာ ဦးထွန်းလွင် အမည်ဖြင့် ရရှိထားသောမြေကွက်အမှတ် (၁၀၁၊ ၁၀၂)နှင့် ဦးနိုင်မိုးအမည်ဖြင့် ရရှိထားသော မြေကွက်အမှတ်(၁၀၃၊ ၁၀၄) တို့အတွက် စက်မှု/ လက်မှုလုပ်ငန်းဆောင်ရွက်ရန် ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီမှ ခွင့်ပြုပေးထားသည့် နှစ်(၆၀)ဂရန်များကို တင်ပြထားပါသည်။ မြေကွက် အမှတ်(၁၇၉)နှင့် ပတ်သက်၍ ဒေါ်ဆွေဆွေဝင်း အမည်ဖြင့် စက်မှုလက်မှုလုပ်ငန်းအတွက် မြေ အသုံးပြုခွင့် အထောက်အထားနှင့် ဒေါ်ဆွေဆွေဝင်းမှ ဦးနိုင်မိုးသို့ စက်မှုဇုန်မြေကွက် အရောင်းအပြီးသတ် ငွေချေကတိစာချုပ် တင်ပြ ထားပြီးမြေငှားစာချုပ် အသစ်လျှောက်ထားခြင်းအားခွင့်ပြုပေးနိုင်ပါရန် ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီ၊ မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာနသို့ ဦးနိုင်မိုးမှ လျှောက်ထားသည့် စာအားတင်ပြထားပါသည်။</td></tr>
</table>

| | | |
|---|---|---|
| | | - မြေပိုင်ရှင် ဦးထွန်းလွင်နှင့် Betagro (Myanmar) Co., Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)၊ မြေပိုင်ရှင် ဦးနိုင်မိုးနှင့် Betagro (Myanmar) Co., Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း) ၊ အဆောက်အဦ Layout Plan နှင့် တည်နေရာပြ မြေပုံ တို့ကိုတင်ပြထားပါသည်။<br>- ဒါရိုက်တာများ၏ Passport မိတ္တူနှင့် မှတ်ပုံတင်မိတ္တူများ တင်ပြ ထားပါသည်။<br>- Betagro (Myanmar) Co., Ltd. ၏ကုမ္ပဏီကတ်မိတ္တူ၊ Shwe Me Co., Ltd. ၏ ကုမ္ပဏီကတ်မိတ္တူနှင့် BOD Resolution ၊ Betagro Public Co., Ltd. ၏ Certificate နှင့် BOD Resolution တို့ကိုတင်ပြ ထားပါသည်။<br>- Betagro (Myanmar) Co., Ltd.နှင့် Shwe Me Co., Ltd.တို့ ချုပ်ဆိုထားသည့် ဖက်စပ်စာချုပ် တင်ပြထားပါသည်။<br>- ငွေရေးကြေးရေးအထောက်အထားအဖြစ် Betagro Public Co., Ltd. အမည်ဖြင့် ဘန်ကောက်ရှိ SCB ဘဏ်တွင် ၂၉-၁၀-၂၀၁၉ ရက်နေ့အထိ ထိုင်းဘတ် ၄,၇၇၄,၇၀၇ ရှိကြောင်းနှင့် Shwe Me Co., Ltd. အမည်ဖြင့် မြန်မာနိုင်ငံရှိ CB Bank တွင် ၃၀-၁၂-၂၀၁၉ ရက်နေ့အထိ အမေရိကန် ဒေါ်လာ ၃,၈၂၅,၂၅၈.၂၉ ရှိကြောင်း တင်ပြ ထားပါသည်။<br>- ပြည်ပမှ နှစ်စဉ်တင်သွင်းမည့် ကုန်ကြမ်းစာရင်းများနှင့် ပြည်ပမှ တင်သွင်းမည့် အမေရိကန်ဒေါ်လာ ၃,၈၃၈,၄၉၄ ရှိသော စက်ပစ္စည်း စာရင်းများအားတင်ပြထားပါသည်။<br>- Betagro (Myanmar) Co., Ltd. သည် မြန်မာနိုင်ငံအတွင်းရှိ ပြည်တွင်းဘဏ်မှ ချေးငွေအမေရိကန် ဒေါ်လာ ၅, ၀၁၄,၅၀၀ ချေးယူမည်ဖြစ်ပြီးအတိုးနှုန်းနှင့် ပြန်ဆပ်မည့် အစီအစဉ်တို့ကို တင်ပြထားပါသည်။<br>- ကုမ္ပဏီမှ Process Flow Diagram of 6,000 TPM နှင့် Feed mill Machine Process Flow Diagram of 6,000 TPM တို့ကို တင်ပြ ထားပါသည်။ |

| | | |
|---|---|---|
| ၁၀။ | စိစစ်တင်ပြချက် | - လုပ်ငန်းခွင်သာယာရေးနှင့် သက်သာချောင်ချိရေးစီမံချက်၊ CSR အစီအစဉ်၊ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေး စီမံချက် တို့ကို တင်ပြထားပါသည်။<br>- ထုတ်လုပ်မည့် ပစ္စည်းနမူနာပုံများ တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 1080 တွင် အကျုံးဝင်ပါသည်။<br>- ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနမှ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ် ခြင်း (Environmental Impact Assessment – EIA ) ကို ဆောင်ရွက် ရမည် ဖြစ်ကြောင်းနှင့် အဆိုပါ EIA ကိုကျွမ်းကျင်ပညာရှင်များဖြင့် ပြုလုပ်၍ ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan- EMP)ကိုရေးဆွဲ တင်ပြရမည်ဖြစ်ကြောင်း သဘောထားပြန်ကြားချက်အရ အဆိုပြုချက် ပြင်ဆင်တင်ပြလာခြင်း ဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၂/ခ-၀၆၃/၂၀၂၀( ၀၂၀ )
ရက်စွဲ ၊ ၂၀၂၀ ပြည့်နှစ် ဇန်နဝါရီလ ၂၇ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့် အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Betagro (Myanmar) Co., Ltd. မှ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ ထိုင်းနိုင်ငံ Betagro Public Co., ltd. မှ ၈၀ % နှင့် မြန်မာနိုင်ငံ Shwe Me Co., Ltd. မှ ၂၀ % အစုရှယ်ယာ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် Betagro (Myanmar) Company Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်-၁၀၁၊ ၁၀၂၊ ၁၀၃၊ ၁၀၄၊ ၁၇၉၊ မြေတိုင်းရပ်ကွက်အမှတ်-သီလဝါစက်မှုဇုန်၊ သန်လျင်-ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်း မြေ ၁၁.၂၀၁ ဧကအား ငှားရမ်း၍ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြေအထောက်အထားအဖြစ် Betagro (Myanmar) Co., Ltd. မှ မြေကွက် (၅)ကွက် အားငှားရမ်းမည်ဖြစ်ရာ ဦးထွန်းလွင်အမည်ဖြင့် ရရှိထားသောမြေကွက်အမှတ် (၁၀၁၊ ၁၀၂)နှင့် ဦးနိုင်မိုးအမည်ဖြင့်ရရှိထားသော မြေကွက်အမှတ်(၁၀၃၊၁၀၄)တို့အတွက် စက်မှု/ လက်မှုလုပ်ငန်း ဆောင်ရွက်ရန် ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီမှ ခွင့်ပြုပေးထားသည့် နှစ် (၆၀) ဂရန်များကို တင်ပြထားပါသည်။ မြေကွက်အမှတ်(၁၇၉)နှင့် ပတ်သက်၍ ဒေါ်ဆွေဆွေဝင်းအမည်ဖြင့် စက်မှုလက်မှု လုပ်ငန်းအတွက် မြေအသုံးပြုခွင့် အထောက်အထားနှင့် ဒေါ်ဆွေဆွေဝင်းမှ ဦးနိုင်မိုးသို့ စက်မှုဇုန် မြေကွက် အရောင်းအပြီးသတ် ငွေချေကတိစာချုပ် တင်ပြထားပြီးမြေငှားစာချုပ် အသစ်လွှောက်ထားခြင်းအား ခွင့်ပြုပေးနိုင်ပါရန် ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီ၊ မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာနသို့ ဦးနိုင်မိုးမှ လျှောက်ထားသည့် စာအားတင်ပြထားပါသည်။

၃။ မြေပိုင်ရှင် ဦးထွန်းလွင်နှင့် Betagro (Myanmar) Co., Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)၊ မြေပိုင်ရှင်ဦးနိုင်မိုးနှင့် Betagro (Myanmar) Co., Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း) ၊ အဆောက်အဦ Layout Plan နှင့် တည်နေရာပြ မြေပုံ တို့ကိုလည်းကောင်း၊ Betagro (Myanmar) Co., Ltd.နှင့် Shwe Me Co., Ltd.တို့ ချုပ်ဆိုထားသည့် ဖက်စပ်စာချုပ်ကို လည်းကောင်း တင်ပြ ထားပါသည်။

၄။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်ဖြစ်ပါသည်။ မြေငှားရမ်းခမှာ တစ်နှစ် တစ်ကေလျှင် အမေရိကန်ဒေါ်လာ ၂၇,၀၄၇.၁၄ ဖြစ်ပါသည်။

၅။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့် မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၆။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၁၀.၈၀၀ သန်း(ချေးငွေ အမေရိကန် ဒေါ်လာ ၅.၀၁၄၅ သန်းအပါအဝင်) ဖြစ်ပြီး ပြည်ပမှ စက်ပစ္စည်းတန်ဖိုး အမေရိကန် ဒေါ်လာ ၃,၈၃၈,၄၉၄ အား တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ရင်းနှီးမြှုပ်နှံမှုအား အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| စဉ် | ထည့်ဝင်သည့် အမျိုးအစား | ပြည်ပ | | ပြည်တွင်း | | စုစုပေါင်း (US$/ သန်း) |
|---|---|---|---|---|---|---|
| | | ထည့်ဝင်ငွေ (US$/သန်း) | ချေးငွေ (US$/သန်း) | ထည့်ဝင်ငွေ (US$/သန်း) | ချေးငွေ (US$/သန်း) | |
| (က) | ငွေပမာဏ | ၀.၇၇၁၀ | - | - | - | ၀.၇၇၁၀ |
| (ခ) | စက်ပစ္စည်းကိရိယာများ | ၁.၉၁၉၅ | ၁.၉၁၉၅ | ၀.၂၂၅၀ | ၀.၂၂၅၀ | ၄.၂၈၉၀ |
| (ဂ) | အဆောက်အဦဆောက် လုပ်မှုကုန်ကျစရိတ် | ၁.၁၁၂၉ | ၁.၂၆၇၁ | ၀.၈၁၇၁ | ၀.၆၆၂၉ | ၃.၈၆၀၀ |
| (ဃ) | အခြား | ၀.၈၂၅၀ | ၀.၈၂၅၀ | ၀.၁၁၅၀ | ၀.၁၁၅၀ | ၁.၈၈၀၀ |
| | စုစုပေါင်း | ၄.၆၂၈၄ | ၄.၀၁၁၆ | ၁.၁၅၇၁ | ၁.၀၀၂၉ | ၁၀.၈၀၀၀ |

၇။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၁၇၂)ဦး၊ ပြည်ပ ဝန်ထမ်း (၁၃)ဦး စုစုပေါင်း (၁၈၅)ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၇၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာကျပ် ၆၉၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၁,၈၅၀,၀၀၀ ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိမည့် တိရစ္ဆာန်အစာများအား ပြည်တွင်းတွင် ၁၀၀% ရောင်းချမည် ဖြစ်ပြီး ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် (Tons) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/Ton) |
|---|---|---|---|
| (က) | Pig Feed | ၃,၀၀၀ | ၆၄၅,၀၀၀ |
| (ခ) | Layer Feed | ၂,၀၀၀ | ၅၂၅,၀၀၀ |
| (ဂ) | Broiler Feed | ၆,၆၆၇ | ၆၃၀,၀၀၀ |

၉။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ သက်ဆိုင်ရာဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားထားပါသည်-

(က) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန၏ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများ နှင့်

အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထား ပြန်ကြားထား ပါသည်။ နောက်ဆက်တွဲ (က)

(ခ) စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စက်မှုဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ နောက်ဆက်တွဲ (ခ)

(ဂ) ရန်ကုန်တိုင်းဒေသကြီး ညွှန်ကြားရေးမှူးရုံး၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန မှ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment-EIA)ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၄၉)၊(၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကို ရေးဆွဲတင်ပြရမည်ဖြစ်ကြောင်း ပြန်ကြားထား ပါသည်။ နောက်ဆက်တွဲ (ဂ)

၁၀။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Betagro Public Co., Ltd. အမည်ဖြင့် ဘန်ကောက်ရှိ SCB ဘဏ် တွင် ၂၉-၁၀-၂၀၁၉ ရက်နေ့အထိ ထိုင်းဘတ် ၄,၇၇၄,၇၀၇ ရှိကြောင်း နှင့် Shwe Me Co., Ltd. အမည်ဖြင့် မြန်မာနိုင်ငံရှိ CB Bank တွင် ၃၀-၁၂-၂၀၁၉ ရက်နေ့အထိ အမေရိကန်ဒေါ်လာ ၃,၈၂၅,၂၅၈.၂၉ ရှိကြောင်း တင်ပြထားပါသည်။

၁၁။ Betagro (Myanmar) Co., Ltd. သည် ပြည်တွင်းဘဏ်မှ ချေးငွေ အမေရိကန်ဒေါ်လာ ၅,၀၁၄,၅၀၀ ချေးယူမည်ဖြစ်ပြီးအတိုးနှုန်းနှင့် ပြန်ဆပ်မည့်အစီအစဉ်တို့ကို တင်ပြထားပါသည်။

၁၂။ ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ ဝင်ငွေခွန်ပေးဆောင်မည့် အစီအစဉ်၊ CSR Project Process Flow Diagram of 6,000 TPM နှင့် Feed mill Machine Process Flow Diagram of 6,000 TPM တို့ကို တင်ပြ ထားပါသည်။

၁၃။ Betagro (Myanmar) Co., Ltd. ၏ ကုမ္ပဏီကတ်မိတ္တူ၊ Shwe Me Co., Ltd. ၏ ကုမ္ပဏီကတ်မိတ္တူနှင့် BOD Resolution ၊ Betagro Public Co., Ltd. ၏ Certificate နှင့် BOD Resolution တို့ကိုတင်ပြ ထားပါသည်။

၁၄။ ၂၀၁၉ ခုနှစ် ဒီဇင်ဘာလ ၉ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၄၂/၂၀၁၉ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

စိစစ်တင်ပြချက်

၁၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 1080 တွင် အကျုံးဝင်ပါသည်။

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Betagro (Myanmar) Company Limited မှ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်း ကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

၂၁/၇/၂၀

ဥက္ကဋ္ဌ(ကိုယ်စား)
(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
# ပြည်ထောင်စုဝန်ကြီးရုံး

mpy-0072
9.1.2020

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး( ၀၀၅ /၂၀၂၀)

ရက်စွဲ၊ ၂၀၂၀ ခုနှစ်၊ ဇန်နဝါရီလ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၁၂-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၆၃/၂၀၁၉(၄၀၉)

၁။ Betagro (Myanmar) Company Limited သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်- ( ၁၀၁ ၊ ၁၀၂ ၊ ၁၀၃ ၊ ၁၀၄၊ ၁၇၉) ၊ မြေတိုင်းရပ်ကွက်အမှတ်- သီလဝါစက်မှုဇုန်၊ သန်လျင်- ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်း မြေ (၁၁.၂၀၁) ဧက အား ငှားရမ်း၍ တိရစ္ဆာန်အစားအစာများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ခြင်းအပေါ် အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ဝန်ကြီးဌာနအနေဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး၊ ခေတ္တတိုင်းဒေသကြီးဦးစီးမှူး ခေါင်းဆောင်သောအဖွဲ့ဖြင့် ကွင်းဆင်းစစ်ဆေးချက်များအရ-

(က) ကုမ္ပဏီမှ ငှားရမ်းထားသည့် မြေ (၁၁.၂၀၁) ဧကသည် သီလဝါစက်မှုဇုန် အဝင် လမ်းမကြီးဘေးတွင် တည်ရှိပြီး ကုန်ဝင်/ ကုန်ထုတ်လမ်း ကောင်းမွန်၍ မူလ ဆောက်လုပ်ထားခဲ့သော အဆောက်အဦ ဂိုဒေါင်( ၂)လုံး၊ ဝန်ထမ်းအိမ်ရာ နှင့် ရုံးခန်းများ စသည့် ယခင်တည်ဆောက်ထားပြီးသား အဆောက်အဦများကို တွေ့ရှိရပါကြောင်း၊

(ခ) မြေပြင်တွင် တိရစ္ဆာန်အစားအစာများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း အား စတင်ဆောင်ရွက်ခြင်း မရှိသေးပါကြောင်း၊

(ဂ) ငှားရမ်းဆောင်ရွက်မည့် မြေ (၁၁.၂၀၁) ဧက ကိုလည်း ခြံစည်းရိုးခတ်ထားပြီး ဖြစ်ပါကြောင်း၊

(ဃ) အဆောက်အဦများအနေဖြင့် ဂိုဒေါင်အကြီး (၁၆၀×၄၀၀) ပေ (၁)လုံး၊ ဂိုဒေါင်အသေး (၉၀×၁၄၀)ပေ (၁)လုံး၊ စုစုပေါင်း (၂) လုံး၊ ဝန်ထမ်းအိမ်ရာနှင့် ရုံးခန်း ရှိသည်ကို တွေ့ရှိရပါကြောင်း စိစစ်တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ Betagro (Myanmar) Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းမြို့နယ် ရှိ မြေ (၁၁.၂၀၁) ဧက အား ငှားရမ်း၍ တိရစ္ဆာန်အစာများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ ကုန်ကြမ်း၊ ကုန်ချောများကို တိရစ္ဆာန်အစာနှင့် ဆေးဝါးဓါတ်ခွဲခန်းတွင် ပေးပို့စစ်ဆေးပြီး ဘေးကင်းလုံခြုံ အန္တရာယ်ကင်းသည့် တိရစ္ဆာန်အစားအစာများကို ထုပ်လုပ်ဖြန့်ဖြူး ဆောင်ရွက်မည်ဆိုပါက ဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
လှထွန်း၊ ဒုတိယအမြဲတမ်းအတွင်းဝန်

မိတ္တူ။

- ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
- ရုံးလက်ခံ
- မျှော

နောက်ဆက်တွဲ (ခ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၅- စမ( ၂ ) ၂၀၁၉ - ၂၀၂၀(၄၄၃)
ရက် စွဲ၊ ၂၀၁၉ ခုနှစ်၊ နိုဝင်ဘာလ ၂၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅.၁၁.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက- ၂ / အ - ၀၄၉ / ၂၀၁၉ ( ၃၅၁ )

၁။ Betagro (Myanmar) Company Limited. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင် - ကျောက်တန်းမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် - သီလဝါစက်မှုဇုန်၊ မြေကွက်အမှတ်(၁၀၁၊ ၁၀၂၊ ၁၀၃၊ ၁၀၄၊ ၁၇၉) ရှိ စုစုပေါင်းမြေဧရိယာ( ၁၁.၂၀၁)ကေတွင် ငှားရမ်း၍ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် လုပ်ငန်းအတွက် တင်သွင်းမည့် စက်ပစ္စည်းများသည် လုပ်ငန်းသဘာဝ၊ ထုတ်လုပ်မှုလုပ်ငန်းစဉ်တို့နှင့် ကိုက်ညီခြင်းရှိ/မရှိ၊ ကုန်ကြမ်းပစ္စည်းများသည် လုပ်ငန်းနှင့်သင့်လျော်မှုရှိ/မရှိစသည့် အချက်များအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံခဲ့ပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှ ဆောင်ရွက်မည့် လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းတွင် အသုံးပြုမည့် စက်ပစ္စည်းနှင့် ကုန်ကြမ်းများအား တရုတ်နှင့် ထိုင်းနိုင်ငံတို့မှ တင်သွင်းမည်ဖြစ်ပါသည်။

( ခ ) တင်သွင်းမည့် စက်ပစ္စည်းနှင့် ကုန်ကြမ်းပစ္စည်းများမှာ လုပ်ငန်းအတွက် လိုအပ်ကြောင်း စိစစ်တွေ့ရှိရပြီး စက်ပစ္စည်းတန်ဖိုးများမှာ အနီးစပ်ဆုံးမှန်ကန်မှုရှိပါသည်။

( ဂ ) တင်သွင်းမည့် စက်ပစ္စည်းများမှာ Energy သုံးစွဲမှုနည်းသော စက်ပစ္စည်းများဖြစ်ရန်နှင့် ထိခိုက်မှုနည်းစေရန် အစီအမံများပါရှိရန် လိုအပ်ပါသည်။

(ဃ) တင်သွင်းမည့် ကုန်ကြမ်းပစ္စည်းများအနက် ဓာတုဗေဒနှင့် ဆက်စပ်သောပစ္စည်းများပါရှိနေပါ၍ ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများအန္တရာယ်မှ တားဆီးကာကွယ်ရေးဥပဒေနှင့်အညီ ထောက်ခံချက်ရယူ၍ တင်သွင်းရန် လိုအပ်ပါသည်။

(င) တင်သွင်းမည့် ဘွိုင်လာ၊ ထရန်စဖော်မာ၊ မီးစက်များနှင့်ပတ်သက်၍ လိုအပ်သော အထောက်အထားများ ပြည့်စုံစွာပါရှိရန် လိုအပ်ပြီး တည်ဆဲဘွိုင်လာဥပဒေ၊ လျှပ်စစ်ဥပဒေတို့နှင့်အညီ အသုံးပြုခွင့်ရယူ ဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Betagro (Myanmar) Company Limited. မှ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ တင်သွင်းမည့် စက်ပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများသည် လုပ်ငန်းနှင့် သင့်လျော်မှုရှိပါကြောင်းနှင့် အထက်ပါလိုအပ်ချက်များ ဖြည့်ဆည်းဆောင်ရွက်မည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး( ကိုယ်စား )
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ရုံးလက်ခံ
မျှောစာတွဲ

နောက်ဆက်တွဲ (ဂ)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁ ( ၈၀/၁၉ )
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ နိုဝင်ဘာလ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Betagro Public Co., Ltd. မှ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၄-၁၁-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/အ-၀၄၉/၂၀၁၉(၃၄၄)

၁။ ထိုင်းနိုင်ငံရှိ Betagro Public Co., Ltd. မှ ၈၀% နှင့် မြန်မာနိုင်ငံရှိ Shwe Me Co., Ltd. မှ ၂၀% အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် Betagro (Myanmar) Company Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်- ၁၀၁၊ ၁၀၂၊ ၁၀၄၊ ၁၇၉၊ မြေတိုင်းရပ်ကွက်အမှတ်- သီလဝါစက်မှုဇုန်၊ သန်လျင်-ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်းမြေဧရိယာ ၁၁.၂၀၁ ဧက (၄၅,၃၂၈.၈၃ စတုရန်းမီတာ) အားငှားရမ်း၍ တိရစ္ဆာန်အစားစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိ ရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှု ကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ (၄၅,၃၂၈.၈၃ စတုရန်းမီတာ) တွင် (၄၆,၀၀၀ စတုရန်းပေ) နှင့် (၁၂,၉၆၀ စတုရန်းပေ) ရှိ သိုလှောင်ရုံအဆောက်အဦ (၂) လုံး တည်ဆောက်ပြုပြင်မွမ်းမံခြင်းများပြုလုပ်ကာလုပ်ငန်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် တိရစ္ဆာန်အစားအစာ တန်ချိန် (၁၁၀၀၀) ကျော်မှ (၁၀) နှစ်အတွင်းတန်ချိန် (၁) သိန်းကျော်အထိ ဈေးကွက်အပေါ်မူတည်ကာ တိုးမြှင့်ထုတ်လုပ်ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းအတွက် မြေအောက်ရေ အသုံးပြုမှုအနေဖြင့် ပထမနှစ်တွင်တန် (၄) ထောင်ကျော်မှ (၁၀) နှစ်အတွင်းတန် (၈) ထောင်အထိ တိုးမြှင့်အသုံးပြုကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) ဝန်ထမ်းများသက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေးအစီအမံများကိုလည်း ထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၃%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(င) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသောဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကိုလိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Betagro Public Co., Ltd. မှ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် မြေပြုပြင်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ စွန့်ပစ်မြေဇာပုံနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ခ) တည်ဆောက်လုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထုညစ် ညမ်းခြင်း၊

(ဂ) လုပ်ငန်းလည်ပတ်ရာတွင် လိုအပ်သည့်ရေအား စနစ်တကျ ထုတ်ယူသုံးစွဲမှု မရှိခြင်းကြောင့် မြေအောက်ရေ အရည်အသွေးနှင့် မျက်နှာပြင် နိမ့်ကျခြင်း၊

(ဃ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းခြင်း၊

(င) တိရစ္ဆာန်အစားအစာ အမျိုးမျိုးထုတ်လုပ်ရာတွင် စက်ရုံလည်ပတ်ခြင်းကြောင့် ထွက်ရှိလာမည့် ဆူညံသံနှင့် မီးခိုးခေါင်းတိုင်မှထွက်ရှိလာမည့် အခိုးအငွေ့များ၊ အသုံးပြုသည့် ဓါတုပစ္စည်းများ၊ ဆေးဝါးများ ရောစပ်ခြင်း၊ ကုန်ကြမ်း/ကုန်ချောများ သိုလှောင်ခြင်း၊ ထုတ်ပိုးခြင်း၊ သယ်ယူပို့ဆောင်ခြင်းတို့ကြောင့် ထွက်ပေါ်လာမည့် အနံ့များ၊ စက်ရုံလည်ပတ်ရာတွင် လုပ်ငန်းအဆင့်ဆင့်မှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း၊ စွန့်ပစ် အရည်များကြောင့် စက်ရုံအလုပ်သမားများအပါအဝင် ဒေသခံပြည်သူလူထု၏ ကျန်းမာရေးနှင့် ပတ်ဝန်းကျင် ထိခိုက်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများဖြစ်ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Betagro Public Co., Ltd. မှ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်

များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) **အ**တွက် အသားတင် အမြတ်ငွေ၏ (၃%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

( ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

( ဂ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၅၊ ၄၆ တို့အရ **စီမံကိန်းအဆိုပြုသူသည်** ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းလုပ်ငန်း**(Environmental Impact Assessment-EIA)** မစတင်မီအဆိုပါလုပ်ငန်းကိုဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက် ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၇ မှ အပိုဒ် ၅၄ ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြ အတည်ပြုချက် ရယူရန်၊

( င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါ အချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါ အချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

( စ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် **စီမံ**ချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်

ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက် ရန်နှင့် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများ ဖြည့်စွက်၍ တစ်ပါတည်း တင်ပြရန်၊

(ဓ) သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကို လည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ